


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်




ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၈၉ / ၂၀၁၄ ။ ၂၀၁၄ ခုနှစ်၊ ဇူလိုင် လ ၁၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးစိုင်းထွန်းဝင်း

(ခ) အဘ အမည် ဦးကျင်စိန်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ် ၁၃/ကမန(နိုင်) ဝ၁၈၄၂၆

(ဃ) နေရပ်လိပ်စာ အမှတ်-ဈ/၁ဝဝ၊ ဈေးရပ်ကွက်၊ မူဆယ်မြို့နယ်၊ ရှမ်းပြည်နယ်မြောက်ပိုင်း။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း North East Gate Fruit Co., Ltd.
(အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီလီမိတက်)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့် ပလပ်စတစ်ခြင်း နှင့် ပလပ်စတစ်လိပ် ထုတ်လုပ်ခြင်း လုပ်ငန်း။

(ဆ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် အရပ်ဒေသ(များ) ရှမ်းပြည်နယ်မြောက်ပိုင်း၊ မူဆယ်မြို့နယ်၊ စက်မှုရပ်ကွက်၊ မြေကွက်အမှတ် (၁၃၇ မှ ၁၅၂ ထိ) နှင့် မြေကွက်အမှတ်(၁၅၅၊ ၁၅၆) ရှိ မြေ (၄.၁၄) ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၁၁ဝဝ.ဝဝ သန်း (အမေရိကန်ဒေါ်လာ ၁.၇၃ သန်း အပါအဝင် စုစုပေါင်း ကျပ် သန်း တစ် ထောင့် တစ် ရာ တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ကန့်သတ်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၄၆ /၂၀၁၄(မနသ)

၂၀၁၄ ခုနှစ် ဇူလိုင် လ ၁၇ ရက်

၁။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) သည် မူဆယ်ခရိုင် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ အသုံးပြုခွင့် ရရှိထားသော ရှမ်းပြည်နယ်မြောက်ပိုင်း၊ မူဆယ်မြို့နယ်၊ စက်မှုရပ်ကွက်၊ မြေကွက်အမှတ် (၁၃၇ မှ ၁၅၂ ထိ)နှင့် မြေကွက်အမှတ် (၁၅၅၊ ၁၅၆) ရှိ မြေ ဧရိယာ (၄.၁၄) ဧကတွင် သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့် ပလပ် စတစ်ခြင်းနှင့် ပလပ်စတစ်လိပ် ထုတ်လုပ်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား ၂၀၁၄ ခုနှစ် ဇွန် လ ၂၀ ရက်နေ့ တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၇/၂၀၁၄) အစည်းအဝေးမှ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂၊ ပုဒ်မခွဲ(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) အား သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့် ပလပ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ် ထုတ်လုပ်ခြင်း လုပ်ငန်းအား ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၈၉ /၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၂။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

ကန့်သတ်

(ဂ) ဥပဒေ ပုဒ်မ ၂၀(ဃ)အရ ကုန်ထုတ်လုပ်ငန်း တစ်ခုခုက ထုတ်လုပ်သည့် ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့ တင်ပို့ရောင်းချ၍ ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက် နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်း တည်ဆောက်မှုပြီးစီး၍ ပထမ သုံးနှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် တင်သွင်းသည့် ကုန်ကြမ်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလ ရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ်

အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၀(ဋ)အရ ပြည်ပသို့ တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများ အပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက်အကောင်အထည်ဖော်ရမည်။

၅။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) ၏ မတည်ငွေရင်း ထည့်ဝင်မှုတွင် မန်နေဂျင်းဒါရိုက်တာ ဦးစိုင်းထွန်းဝင်းနှင့် ဒါရိုက်တာ ဦးစိုင်းမောင်ညွန့် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြေ (၄.၁၄)ဧကကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည်ဖြစ်ရာ အဆိုပါမြေအား North East Gate Fruit Co., Ltd. အမည်ပေါက်ဖြစ်ရေး အတွက် ရှမ်းပြည်နယ် အစိုးရ အဖွဲ့သို့ လျှောက်ထား ဆောင်ရွက်ရမည်။ ဂရန်ရရှိပါက ဂရန်မိတ္တူ (၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက်ပေးပို့ တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း လုပ်ငန်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့ အစီရင်ခံရမည်။

၉။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေးများနှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာ ဌာနများ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၁၀။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၁။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေး အန္တရာယ် မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ် ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင် ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံး ပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများ ပေးရမည်။

၁၂။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရ

မည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ရှမ်းပြည်နယ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၄။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ် လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၆။ North East Gate Fruit Co., Ltd. (အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ နှင့်အညီ လိုက်နာရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် ၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရ

ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က)/မ-၁၄၀၅ /၂၀၁၄ ( ၁၁၇-င )

ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ဇူလိုင် လ ၁၂ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ရှမ်းပြည်နယ် အစိုးရအဖွဲ့၊ တောင်ကြီးမြို့

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေး ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

အုပ်ချုပ်မှုဒါရိုက်တာ၊ North East Gate Fruit Co., Ltd.

(အရှေ့မြောက်တံခါး သစ်သီး ကုမ္ပဏီ လီမိတက်)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုမှ တင်ပြလာသော North East Gate Fruit Co., Ltd. ၏ ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၀-၂-၂၀၁၄ | - | - |
| ၂။ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၂၂-၄-၂၀၁၄ | ၃-၃-၂၀၁၄ | |
| | (ခ) ရှမ်းပြည်နယ် အစိုးရအဖွဲ့ | ၂၄-၂-၂၀၁၄ | ၁၁-၆-၂၀၁၄ | ၃၁-၃-၂၀၁၄ |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၄-၂-၂၀၁၄ | ၁၀-၃-၂၀၁၄ | ၁၀-၅-၂၀၁၄ ၂၆-၅-၂၀၁၄ နှင့် |
| | (ဃ) စက်မှုဝန်ကြီးဌာန | ၂၄-၂-၂၀၁၄ | ၁၁-၃-၂၀၁၄ | ၆ - ၆-၂၀၁၄ |
| ၃။ | PAT အစည်းအဝေး တင်ပြခြင်း | ၂၇-၂-၂၀၁၄ | | ရက်စွဲပါ စာများဖြင့် ရှမ်းပြည် |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၇-၃-၂၀၁၄ | | နယ် အစိုးရ အဖွဲ့သို့ နှိုးဆော်စာများ |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပေးပို့ခြင်း | ၃၀-၄-၂၀၁၄ | | အကြိမ်ကြိမ် ထုတ်ပြန်ခဲ့ရပါသည်။ |
| ၆။ | စက်မှုဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပေးပို့ခြင်း | ၃၀-၄-၂၀၁၄ | | |
| ၇။ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ(၁၅)စုံ ပြန်လည် ပေးပို့ခြင်း | ၁၆-၆-၂၀၁၄ | | |
| ၈။ | **စုစုပေါင်းကြာမြင့်ရက်** | **(၁၀၁)ရက်** | | |

* ရှမ်းပြည်နယ် အစိုးရ အဖွဲ့သို့ (၂၄-၂-၂၀၁၄) ရက်စွဲဖြင့် သဘောထား စတင်တောင်းခံခဲ့ပြီး (၃၁-၃-၂၀၁၄)၊ (၁၀-၅-၂၀၁၄)၊ (၂၆-၅-၂၀၁၄) နှင့် (၆-၆-၂၀၁၄) ရက်စွဲတို့ဖြင့် နှိုးဆော်စာများ ထုတ်ပြန်ခဲ့ပါသည်။ (၁၁-၆-၂၀၁၄) ရက်မှ ပြန်ကြားချက် ရရှိခဲ့ရာ (၉၆) ရက် ကြာမြင့်ကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

ကန့်သတ်

North East Gate Fruit Co., Ltd. မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့နယ်တွင် သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့် ပလတ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်းသည့်အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - North East Gate Fruit Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးစိုင်းထွန်းဝင်း (အဘ-ဦးကျင်စိန်) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက် ကုမ္ပဏီ (Private Company ဖြစ်ပါသည်) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့် ပလတ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ် များ ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ | - မူဆယ်မြို့နယ်၊ စက်မှု ရပ်ကွက်၊ မြေကွက် အမှတ်- ၁၃၇၊ ၁၃၈၊ ၁၃၉၊ ၁၄၀၊ ၁၄၁၊ ၁၄၂၊ ၁၄၃၊ ၁၄၄၊ ၁၄၅၊ ၁၄၆၊ ၁၄၇၊ ၁၄၈၊ ၁၄၉၊ ၁၅၀၊ ၁၅၁၊ ၁၅၂ နှင့် မြေကွက်အမှတ်-၁၅၅၊ ၁၅၆ ရှိ စုစုပေါင်းမြေ (၄.၁၄) ဧက |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၃၀ နှစ် |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၁၁၀၀.၀၀ သန်း** (US$၀.၇၃ သန်းအပါအဝင်) |
| | - ငွေပမာဏ | ကျပ် ၃၄၀.၀၉ သန်း (US$ ၀.၃၂ သန်းအပါအဝင်) |
| | - အဆောက်အဦ | ကျပ် ၁၀၀.၀၀ သန်း |
| | - မြေ | ကျပ် ၁၈၀.၀၀ သန်း |
| | - ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ကျပ် ၇၅.၀၀ သန်း |
| | - စက်ပစ္စည်းကိရိယာများ | ကျပ် ၄၀၄.၉၁ သန်း (US$ ၀.၄၁ သန်း) |
| ၈။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ် ခွင့်ဖြင့် တင်သွင်းလို သည့် စက်ပစ္စည်းများ စာရင်း | - စုစုပေါင်း US$ ၀.၄၁ သန်း တန်ဖိုးရှိ စက်ပစ္စည်းများ ကို **ပူးတွဲ(၁)** ဖြင့် တင်ပြထားပါသည်။ |

ကန့်သတ်

၉။ တည်ဆောက်ရေးကာလ - ၁၂ လ

၁၀။ ပြည်ပမှ ဝယ်ယူမည့် ကုန်ကြမ်း - အောက်ပါ ကုန်ကြမ်းများအား တရုတ်နိုင်ငံမှ ဝယ်ယူမည် ဖြစ်ပါသည်-

(မူဆယ် နယ်စပ် ကုန်သွယ်ရေးဂိတ် မှ တင်သွင်းမည် ဖြစ်ပါသည်။)

(က) စက္ကူလိပ် (အဝါ)

(ခ) စက္ကူလိပ် (အနက်)

(ဂ) ခြင်းအတွက် ကော်စေ့

(ဃ) ပလပ်စတစ်လိပ်အတွက် ကော်စေ့

(င) ဖော့စွပ်အိတ်အတွက် ကော်စေ့

၁၁။ (၆)နှစ်မြောက်တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းဈေးနှုန်း

| စဥ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် | ပြည်တွင်း ရောင်းဈေးနှုန်း (ကျပ်/Pcs) | ပြည်ပ ရောင်းဈေးနှုန်း (US$/Pcs) |
|---|---|---|---|---|
| (က) | သစ်သီးထည့်ခြင်း | ၈၀၀,၀၀၀ (Pcs) | ၁,၂၀၀ | ၁.၂ |
| (ခ) | သစ်သီးစွပ် စက္ကူ (၁)ထပ် အိတ် | ၅,၂၈၆ (Bag) | ၁၂၀,၀၀၀ | ၁၂၂.၅ |
| (ဂ) | သစ်သီးစွပ် စက္ကူ (၂)ထပ် အိတ် | ၄,၄၁၆ (Bag) | ၁၃၀,၀၀၀ | ၁၃၂.၆ |
| (ဃ) | သစ်သီးစွပ် ဖော့အိတ် | ၈,၄၀၀ (Bag) | ၂၈,၀၀၀ | ၂၈.၅ |
| (င) | ပလပ်စတစ်လိပ် | ၁၃,၈၀၀ (Nos) | ၂၅,၀၀၀ | ၂၅.၅ |

၁၂။ နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်)

ဝင်ငွေခွန် - ကျပ် ၆၂.၇၁ သန်း

ကုန်သွယ်လုပ်ငန်းခွန် - ကျပ် ၆၈.၇၂ သန်း

| | | |
|---|---|---|
| ၁၃။ | အရင်းကြေကာလ | - (၃) နှစ် နှင့် (၁၀)လ |
| ၁၄။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၆.၂% |
| ၁၅။ | ရောင်းချမည့် နည်းစနစ် | - ပြည်ပ(၅၀%)<br>ပြည်တွင်း(၅၀%) |
| ၁၆။ | တင်ပို့ရောင်းချမည့် နိုင်ငံ | - တရုတ်နိုင်ငံ<br>(မူဆယ်နယ်စပ် ကုန်သွယ်ရေး ဂိတ်မှ တစ်ဆင့် တင်ပို့မည် ဖြစ်ပါသည်။) |
| ၁၇။ | လုပ်သားအင်အား (ပြည်တွင်း) | - ၄၈ ဦး |
| ၁၈။ | လစာပေးချေမှု အစီအစဉ် | - ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် (၉၀,၀၀၀) ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ်(၂၅၀,၀၀၀) ဖြစ်ပါသည်။ |
| ၁၉။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင် အမြတ်၏ ၂ % အား အောက်ပါ အတိုင်း ခွဲဝေသုံးစွဲမည် ဖြစ်ပါသည်-<br>- အခြေခံ ပညာရေး လုပ်ငန်း ၃၀ %<br>- ကျန်းမာရေး စောင့်ရှောက်မှု လုပ်ငန်း ၃၀ %<br>- မြို့နယ် ဖွံ့ဖြိုးသာယာရေး လုပ်ငန်း ၄၀ % |
| ၂၀။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် အတွက် ကြိုတင် ကာကွယ် တားဆီးမှု အစီအမံများ တင်ပြထားပါသည်။ |
| | စိစစ်တင်ပြချက် | - မူဆယ်မြို့၊ စက်မှုရပ်ကွက်၊ မြေကွက်အမှတ် (၁၃၇ မှ ၁၅၂)ထိ နှင့် မြေကွက် အမှတ် (၁၅၅၊ ၁၅၆) ထိ စုစုပေါင်း မြေဧရိယာ ၄.၁၄ ဧကအား ကုမ္ပဏီ အမည် ပြောင်းခွင့်ပြုရန် မူဆယ်မြို့၊ ခရိုင်အုပ်ချုပ်ရေးမှူး အား တင်ပြထားကြောင်း အထောက်အထားကို တင်ပြထား ပါသည်။ |

# အရှေ့ပြောက်တံခါးသစ်သီးကုမ္ပဏီလီမိတက်

## List of Machineries & Equipments
## (to be imported)

Exhibit No.III B

| Sr. No. | | Description | Capacity of Machines | Qty | Unit price (US$) | Amount (US$) |
|---|---|---|---|---|---|---|
| 1 | | **Plastic Basket Machine** | | | | |
| | 1 | Mould Platens | } | 4 | } | |
| | 2 | Toggle Linkage | } | 4 | } | |
| | 3 | Mold Height Adjusting Device | } | 4 | } | |
| | 4 | Clamping Cylinder | } | 4 | } | |
| | 5 | Ejection Unit | } | 4 | } | |
| | 6 | Mechanical Safety Device | } 2000 baskets per | 4 | } | |
| | 7 | Injection Unit | } shift | 4 | } | 260820 |
| | 8 | Carriage Cylinder | } | 4 | } | |
| | 9 | Injection Cylinder | } | 4 | } | |
| | 10 | Screw Drive Assembly | } | 4 | } | |
| | 11 | Screw and Barrel | } | 4 | } | |
| | 12 | Nozzle | } | 4 | } | |
| 2 | | **Plastic Rolling Machine** | | | | |
| | 1 | Heating Coil 750KW 12 nos | } | 3 | } | |
| | 2 | Screw Conveyor (18.5 KW mortar) | }35 plastic roll per | 3 | } | 35337 |
| | 3 | Air Blower | }shift | 3 | } | |
| | 4 | Roller (1.5 KW Mortar) | } | 3 | } | |
| 3 | | **ဖော့အိပ် Machine** | | | | |
| | 1 | Screw Conveyor 7.5 KW | } | 1 | } | |
| | 2 | Wax Injector 0.55 KW | } | 1 | } | |
| | 3 | Mortar Pump 2.2 Kw | } | 1 | } | |
| | 4 | Gas Injector | } | 1 | } | 34493 |
| | 5 | Heating Coil 10 nos. | }22 bags per shift | 1 | } | |
| | 6 | Cooling Water | } | 1 | } | |
| | 7 | Counter Clockwise Turning Mortar 2.2 KW | } | 1 | } | |
| | 8 | Air Cooling | } | 1 | } | |
| | 9 | Cutter (Mortar 0.55 KW) | } | 1 | } | |
| 4 | | **Paper Bag Machine** | | | | |
| | 1 | Paper Roller Lifting Machine and | } | 5 | } | |
| | | Paper Packaging Machine | }25 bags per shift | 5 | } | 24688 |
| 5 | | **Vinyl Machine** | | 2 | | 13115 |
| 6 | | **Recycle Machine** | | 1 | | 15992 |
| 7 | | **Plastic Seed press Machine** | | 1 | | 21008 |
| 8 | | **Plastic Packaging Machine** | | 1 | | 7723 |
| | | **Total** | | | | 413176/ |

Note: Per shift = 8 hours

| | |
|---|---|
| ကုမ္ပဏီအမည် | - North East Gate Fruit Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့် ပလတ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ် ထုတ်လုပ်ခြင်း လုပ်ငန်း |
| တည်နေရာ | - ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ စက်မှုရပ်ကွက်၊ မြေကွက်အမှတ်- ၁၃၇ မှ ၁၅၂ ထိ နှင့် မြေကွက်အမှတ်-၁၅၅မှ ၁၅၆ထိ ရှိ စုစုပေါင်း မြေ (၄.၁၄) ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၁၀၀.၀၀ သန်း (US$၀.၇၃ သန်းအပါအဝင်) |
| လုပ်ငန်းသက်တမ်း | - (၃၀) နှစ် |
| အရင်းကြေကာလ | - ၃ နှစ်နှင့် ၁၀ လ |
| IRR | - ၂၆.၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၁.၅၆ (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၂၀ |
| ၃ | သွင်းကုန် အခွန်ကင်းလွတ်ခွင့် | ၂၈.၃၄ | |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၄၇၀.၉၆ |
| ၆ | ဝင်ငွေခွန် | ၃၃၇.၂၀ | ၃၁၃.၅၃ |
| ၇ | လျှပ်စစ်မီးသုံးစွဲခ | | ၂၆၆၀.၀၀ |
| ၈ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၂.၅၆ |
| ၉ | CSR (၂%) | | ၃၄.၅၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း ၄၈ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၃၆၇.၁၀ သန်း | ကျပ် ၃၄၈၂.၇၅ သန်း |
| | Cost : Benefit | ၁း၉ | |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၆(က)/မ- ၁၄၀၅/၂၀၁၄(၆၂၆၃ )
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် ဇွန် လ ၁၈ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ North East Gate Fruit Co., Ltd. မှ ရှမ်းပြည်နယ် (မြောက်ပိုင်း) ၊ မူဆယ်မြို့နယ်တွင် သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့် ပလတ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များထုတ်လုပ်ကာ ပြည်တွင်း၊ ပြည်ပတွင်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

၁။ North East Gate Fruit Co., Ltd. သည် ရှမ်းပြည်နယ်(မြောက်ပိုင်း) ၊ မူဆယ်မြို့နယ် ၊ စက်မှုရပ်ကွက် ၊ မြေကွက်အမှတ်- ၁၃၇ မှ ၁၅၂ အထိ နှင့် မြေကွက်အမှတ်-၁၅၅၊ ၁၅၆ ရှိ စုစုပေါင်း မြေ (၄.၁၄) ဧကတွင် သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့် ပလတ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိုင်းထွန်းဝင်း (အဘ-ဦးကျင်စိန်)မှ အဆိုပြုချက် တင်ပြ လာခြင်း ဖြစ်ပါသည်။ ယင်းအဆိုပြုချက်ကို (၂၇-၂-၂၀၁၄) ရက် နေ့တွင် ကျင်းပပြုလုပ်သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၀/၂၀၁၃ အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းမှာ နှစ်(၃၀)ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၁၂) လ ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန် ဒေါ်လာ(၀.၇၃)သန်း အပါအဝင် စုစုပေါင်း ကျပ်(၁၁၀၀.၀၀)သန်းဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာများ အမေရိကန်ဒေါ်လာ (၀.၄၁) သန်းဖိုးကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ငွေပမာဏ | ကျပ် | ၃၄၀.၀၉ | သန်း (US$ ၀.၃၂ သန်းအပါအဝင်) |
| (ခ) | အဆောက်အဦ | ကျပ် | ၁၀၀.၀၀ | သန်း |
| (ဂ) | မြေ | ကျပ် | ၁၈၀.၀၀ | သန်း. |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ကျပ် | ၇၅.၀၀ | သန်း |
| (င) | စက်ပစ္စည်းကိရိယာများ | ကျပ် | ၄၀၄.၉၁ | သန်း (US$ ၀.၄၁ သန်း) |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် | ၁၁၀၀.၀၀ | သန်း (US$ ၀.၇၃ သန်းအပါအဝင်) |

ကန့်သတ်

၄။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၄၈)ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်း(၁)ဦး၏ လစာမှာ ကျပ် (၉၀၀၀၀) ဖြစ်ပါသည်။ ဝန်ထမ်းများ၏ နေစရိတ်နှင့် စားသောက်စရိတ်ကို ကုမ္ပဏီမှ ကျခံမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။

၅။ အဆိုပြု လုပ်ငန်းမှ ထွက်ရှိသော ကုန်ချောပစ္စည်းများကို ပြည်တွင်းတွင် (၅၀)% ရောင်းချ၍ ပြည်ပ (တရုတ်နိုင်ငံ)သို့ (၅၀)% တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ (၆)နှစ်မြောက်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် | ပြည်တွင်း ရောင်းဈေးနှုန်း (ကျပ်/Pcs) | ပြည်ပ ရောင်းဈေးနှုန်း (US$/Pcs) |
|---|---|---|---|---|
| (က) | သစ်သီးထည့်ခြင်း | ၈၀၀,၀၀၀ (Pcs) | ၁,၂၀၀ | ၁.၂ |
| (ခ) | သစ်သီးစွပ် စက္ကူ (၁)ထပ် အိတ် | ၅,၂၈၆ (Bag) | ၁၂၀,၀၀၀ | ၁၂၂.၅ |
| (ဂ) | သစ်သီးစွပ် စက္ကူ (၂)ထပ် အိတ် | ၄,၄၁၆ (Bag) | ၁၃၀,၀၀၀ | ၁၃၂.၆ |
| (ဃ) | သစ်သီးစွပ် ဖော့အိတ် | ၈,၄၀၀ (Bag) | ၂၈,၀၀၀ | ၂၈.၅ |
| (င) | ပလပ်စတစ်လိပ် | ၁၃,၈၀၀ (Nos) | ၂၅,၀၀၀ | ၂၅.၅ |

*** စက္ကူအိတ် (1 Bag)တွင် စက္ကူအိတ် အသေး (၅၀၀၀) ပါဝင်ပါသည်။**

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အကြောင်းအရာ | US$ (သန်း) | ညီမျှသော ကျပ်(သန်း) | ပြည်တွင်း ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၁.၃၉ | ၁၃၆၂.၂၀ သန်း | ၁၃၇၄.၃၀ | ၂၇၃၆.၅၀ |
| (ခ) | အသုံးစရိတ် | ၁.၃၃ | ၁၃၀၃.၄၀ သန်း | ၁၁၈၂.၂၈ | ၂၄၈၅.၆၈ |
| (ဂ) | အသားတင်အမြတ် | ၀.၀၆ | ၅၈.၈၀ သန်း | ၁၉၂.၀၂ | ၂၅၀.၈၂ |

၇။ နိုင်ငံတော်မှ ၆ နှစ်မြောက်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၆၈.၇၂)သန်းနှင့် ဝင်ငွေခွန်ကျပ်(၆၂.၇၁)သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ (၃)နှစ် နှင့် (၁၀)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၆.၂% ဖြစ်ပါသည်။

၈။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **ရှမ်းပြည်နယ် အစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

North East Gate Fruit Co., Ltd. သည် သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့် ပလတ်စတစ်ခြင်းနှင့် ပလတ်စတစ်လိပ်များ ထုတ်လုပ် ကာ ပြည်တွင်း၊ ပြည်ပတွင် ရောင်းချလုပ်ကိုင်ခြင်းကြောင့် ဒေသခံလူငယ်များ အလုပ်အကိုင် အခွင့်အလမ်းရရှိခြင်းဖြင့် ကျေးလက်လူမှုစီးပွား ဖွံ့ဖြိုးတိုးတက် စေနိုင်ပါသဖြင့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လုပ်ကိုင် ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက ကန့်ကွက်ရန် မရှိကြောင်း၊

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ - ခ)**

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲ ချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့် တို့အတွက် စီမံကိန်းဆိုင်ရာ အချက် အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်း ဆောင်ရွက် ရမည်ဖြစ်ကြောင်း၊

(၂) စီမံကိန်း လုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းအကောင်အထည် မဖော်မီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ်(၁/၂၀၁၃) အရ လိုအပ်သည့် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) ကို ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊

(၃) ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက်

(Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည် ဖြစ်ကြောင်း၊

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရမည် ဖြစ်ကြောင်း၊

**(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီး ဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ကနဦးပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း အစီရင်ခံစာ ( Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) တို့ကို ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း တိကျစွာလိုက်နာ၍ အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။)**

(ဂ) **စက်မှုဝန်ကြီးဌာန(နောက်ဆက်တွဲ - ဂ)**

(၁) လျှပ်စစ်သွယ်တန်း အသုံးပြုမှုများအား လျှပ်စစ်ဥပဒေနှင့် အညီ အသုံးပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ကြောင်း၊

(၂) ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ကြောင်း၊

(၃) စက်စမ်းသပ်လည်ပတ်နိုင်ပါက ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့် အညီ စက်မှု မှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ကြောင်း၊

(၄) ကုန်ကြမ်းနှင့် ကုန်ချော ထုတ်လုပ်မှု အချိုးအစား ကိုက်ညီမှု ရှိကြောင်း၊

(၅) ကုန်ကြမ်းနှင့် ကုန်ချောဈေးနှုန်း တင်ပြထားမှု ဆီလျော်မှု ရှိကြောင်း၊

(၆) နှစ်အလိုက် တိုးချဲ့ထုတ်လုပ်မည့် ကုန်ထုတ်လုပ်မှု ပြည့်မီရန်အတွက် စက်အင်အား/လူအင်အား တိုးချဲ့သွားရန် လိုအပ်ကြောင်း၊

(၇) အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့် တည်ဆဲ ဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက စက်မှုဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း၊

(ကုမ္ပဏီမှ စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြု ထားပါသည်။)

၉။ ကျပ်ငွေ အထောက်အထားအဖြစ် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာ ဦးစိုင်းထွန်းဝင်းနှင့် ဒါရိုက်တာ ဦးစိုင်းမြင့်ဗိုလ် အမည်တို့ဖြင့် Myanma Economic Bank ရှိ (၂၈-၁-၂၀၁၄)နေ့ ငွေလက်ကျန် ကျပ် (၁၉၈.၄၀) သန်း သုံးစွဲမည့်ငွေ ကျပ် (၃၈၅.၉၀) သန်း၏ ၅၁.၄၁% တင်ပြထားပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် Kanbawza Bank Ltd. ရှိ (၂၅-၃-၂၀၁၄) နေ့ ငွေလက်ကျန် US$(၀.၀၅)သန်း တင်ပြထားရာ သုံးစွဲမည့် နိုင်ငံခြားငွေ US$ (၀.၇၃) သန်း ၏ ၄.၁၁ % ရှိပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် လုပ်ငန်းသစ်ဖြစ်ကြောင်း၊ မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားသား မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်စေရန်အတွက် လိုအပ်သော အစီအမံများ ဆောင်ရွက်ထားမည့်အပြင် ညှော်နံ့ ပပျောက်စေရန် လေထုတ်စက်များ တပ်ဆင်ထားမည် ဖြစ်ကြောင်း၊ မီးဘေးကြိုတင် ကာကွယ်ရန် အတွက် Fire Fighting Equipment များကို အသုံးပြုသွားမည်ဖြစ်ကြောင်း၊ ကုန်ချောများကို ပြည်တွင်း၊ ပြည်ပတွင် ရောင်းချရန် ဈေးကွက်ရှိကြောင်း၊ နိုင်ငံတော်မှ မြေယာနှင့် ပတ်သက်၍ ပြဋ္ဌာန်းသတ်မှတ်ထားသည့် စည်းကမ်းဥပဒေများ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်၍ ပြဋ္ဌာန်းသတ်မှတ်ထားသည့် စည်းကမ်းဥပဒေများကိုလည်း လိုက်နာမည် ဖြစ်ကြောင်း၊ ပြည်ပမှ စက်ပစ္စည်း ကိရိယာအသစ်များကို ဝယ်ယူမည် ဖြစ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ် စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားအတွက် မဟာဓါတ်အားလိုင်းမှ သုံးစွဲမည် ဖြစ်ပြီး လိုအပ်ပါက ကိုယ်ပိုင် မီးစက်(250 KVA Generator)ဖြင့် သုံးစွဲသွားမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အသားတင် အမြတ်ငွေ၏ (၂%) ကို Corporate Social Responsibility (CSR) လုပ်ငန်းအတွက်ဆောင်ရွက် မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ထို့ပြင် လုပ်သားများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေး ဆောင်ရွက်မည့် အစီအစဉ် တို့ကို တင်ပြထားပါသည်။

၁၃။ **စိစစ်တင်ပြချက်**။ မူဆယ်မြို့၊ စက်မှုရပ်ကွက်၊ မြေကွက်အမှတ် (၁၃၇ မှ ၁၅၂) နှင့် မြေကွက် အမှတ် (၁၅၅၊ ၁၅၆)ရှိ စုစုပေါင်း မြေဧရိယာ ၄.၁၄ ဧကအား ကုမ္ပဏီအမည် ပြောင်းရန် အတွက် မူဆယ်မြို့ ခရိုင်အုပ်ချုပ်ရေးမှူးအား တင်ပြထားကြောင်း အထောက်အထားကို တင်ပြထား ပါသည်။ မြေနှင့်ပတ်သက်၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ရှင်းလင်းချက်ကို ပူးတွဲ တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက် ထားလာလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ North East Gate Fruit Co., Ltd. မှ ရှမ်းပြည်နယ်(မြောက်ပိုင်း) ၊ မူဆယ်မြို့နယ် ၊ စက်မှုရပ်ကွက် ၊ မြေကွက်အမှတ်- (၁၃၇ မှ ၁၅၂)နှင့် မြေကွက်အမှတ်- (၁၅၅ မှ ၁၅၆) ရှိ စုစုပေါင်းမြေ (၄.၁၄) ဧက တွင် သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့် ပလတ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များ ထုတ်လုပ်ကာ ပြည်တွင်း၊ ပြည်ပတွင် ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ





**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ပြည်နယ်အစိုးရအဖွဲ့**
**ရှမ်းပြည်နယ်**

စာအမှတ်၊(၈၃၉၃ )/၇ - ၅၀၁ / အစရ( ရှမ်း)
ရက် စွဲ ၊ ၂၀၁၄ခုနှစ် ၊ ဇွန်လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄.၂.၂၀၁၄)ရက်စွဲပါ စာအမှတ်၊ ရကာ-၆(က)/ မ-၁၄၀၅/၂၀၁၄(၁၉၇၆)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုက်နှံမှုကော်မရှင်၏ (၁၀.၅.၂၀၁၄)ရက်စွဲပါ စာအမှတ်၊ ရကာ-၆(က)/ မ-၁၄၀၅/၂၀၁၄(၄၇၈၉-စ)

၁။ မူဆယ်ခရိုင်၊ မူဆယ်မြို့၊ စက်မှုရပ်ကွက်၊ မြေကွက်အမှတ်- ၁၃၇၊၁၃၈၊၁၃၉၊၁၄၀၊ ၁၄၁၊၁၄၂၊၁၄၃၊ ၁၄၄၊၁၄၅၊၁၄၆၊၁၄၇၊၁၄၈၊၁၄၉၊ ၁၅၀၊၁၅၁၊၁၅၂နှင့် မြေကွက်အမှတ်-၁၅၅၊ ၁၅၆ရှိ စုစုပေါင်းမြေ(၄.၁၄)ဧကတွင် သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့် ပလပ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များ ထုတ်လုပ်ကာ ပြည်တွင်း၊ ပြည်ပတွင်ရောင်းချ ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် North East Gate Fruit Co.,Ltd.မှ အဆိုပြုတင်ပြလာခြင်းအပေါ် အောက်ပါ အချက်များနှင့် ပတ်သက်၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့မှ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ။

(ခ ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့်ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်။

(ဂ ) ဖော်ပြပါမြေနေရာတွင်လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။

၂။ ယင်းကိစ္စနှင့်ပတ်သက်၍ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေနိုင်ပါကြောင်း၊ ဖော်ပြပါမြေနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံမှုရှိပါကြောင်း ခရိုင်စီမံခန့်ခွဲမှုကော်မတီ၊ မူဆယ်မြို့၏ (၂၁.၃.၂၀၁၄)ရက်စွဲပါ စာအမှတ်၊ ၅/၁-၁/ဦး-၆(၆၆၅)ဖြင့် တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ North East Gate Fruit Co.,Ltd.မှ သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့် ပလပ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များ ထုတ်လုပ်ကာ ပြည်တွင်း၊ ပြည်ပတွင် ရောင်းချ လုပ်ကိုင်ခြင်းကြောင့် ဒေသခံလူငယ်များအလုပ်အကိုင်အခွင့်အလမ်းရရှိခြင်းဖြင့် ကျေးလက်လူမှုစီးပွားဖွံ့ဖြိုးတိုးတက် စေနိုင်ပါသဖြင့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပေးပို့အပ်ပါသည်။

၁၁၊၆၊၂၀၁၄

ပြည်နယ်ဝန်ကြီးချုပ်
(စဝ်အောင်မြတ်)

မိတ္တူကို

ပြည်နယ်ဒုတိယအုပ်ချုပ်ရေးမှူး၊ ပြည်နယ်ဒုတိယအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ လားရှိုးမြို့
North East Gate Fruit Co.,Ltd.၊ ၈၂/၁၀၀၊ ဈေးရပ်ကွက်၊ မူဆယ်မြို့
ရုံးလက်ခံ
မျှောစာတွဲ

၆/၁၆၂



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

1.247
11-3-14

စာအမှတ် ၂/၂၂၀ (ခ) (၆) / (၁၇၄၂ / ၂၀၁၄)
ရက်စွဲ ၂၀၁၄ ခုနှစ်၊ မတ် လ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ North East Great Fruit Co., Ltd. မှ သစ်သီးစွပ်စက္ကူအိတ်၊ သစ်သီးစွပ်ဖော့အိတ်၊ သစ်သီးထည့်ပလပ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များ ထုတ်လုပ်ကာ ပြည်တွင်း ပြည်ပတွင်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ သဘောထားမှတ်ချက်တင်ပြခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၂-၂၀၁၄ ရက်စွဲပါစာအမှတ်- ရက -၁ / မ - ၁၄၀၅ / ၂၀၁၄ (၁၉၇၈)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ North East Great Fruit Co., Ltd. သည် ရှမ်းပြည်နယ်(မြောက်ပိုင်း) မူဆယ်မြို့နယ်၊ စက်မှုရပ်ကွက်၊ မြေကွက်အမှတ်-၁၃၇၊ ၁၃၈၊ ၁၃၉၊ ၁၄၀၊ ၁၄၁၊ ၁၄၂၊ ၁၄၃၊ ၁၄၄၊ ၁၄၅၊ ၁၄၆၊ ၁၄၇၊ ၁၄၈၊ ၁၄၉၊ ၁၅၀၊ ၁၅၁၊ ၁၅၂ နှင့် မြေကွက် အမှတ်- ၁၅၅၊ ၁၅၆ ရှိစုစုပေါင်းမြေ(၄.၁၄)ဧကတွင် သစ်သီးစွပ်စက္ကူအိတ်၊ သစ်သီးစွပ်ဖော့အိတ်၊ သစ်သီးထည့်ပလပ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များထုတ်လုပ်ကာ ပြည်တွင်းပြည်ပတွင် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံခွင့်လျှောက်ထားခြင်း၊ စက်ရုံဝန်ထမ်းများသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် စီစဉ်ဆောင်ရွက်ထားမှုများ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ အသုံးပြုမည့်ကုန်ကြမ်းပစ္စည်း၊ ထုတ်လုပ်မည့်ပမာဏတို့ဖော်ပြပါရှိပြီး သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုမရှိစေရန် ပတ်ဝန်းကျင် စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ ချမှတ်ထားသော စည်းမျဉ်းများအားလိုက်နာမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်စောင့်ကြည့်စစ်ဆေးခြင်း နှင့် စီမံခန့်ခွဲမှုအစီအစဉ်များကိုလည်း ရေးဆွဲအကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားသည်ကိုစိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပြု လုပ်ငန်းဆောင်ရွက်မည်ဆိုပါက စက်ရုံတွင်အသုံးပြုမည့် ကုန်ကြမ်းများ ဖြစ်သည့် နိုင်လွန်/ပေါ်လီအက်စတာ၊ Fabric၊ Non Weaving PVC၊ PVC Packing Bag အစရှိသည့် Synthetic ကုန်ကြမ်းပိတ်စများသည် ဆွေးမြေ့ပျက်စီးရန်အချိန်ကြာမြင့်ပြီး ပတ်ဝန်း ကျင် ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ လုပ်ငန်းအဆင့်တိုင်းမှထွက်ရှိလာမည့် ပိတ်ဖြတ်စများ၊ အမှုန် အမွှားများ၊ ကုန်ပစ္စည်းထုတ်လုပ်ရာမှ ထွက်ရှိမည့်စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များ ကိုစနစ်တကျ မစွန့်ပစ်ပါက ပတ်ဝန်းကျင် ညစ်ညမ်းမှုဖြစ်နိုင်ခြင်း၊ လုပ်ငန်းသုံးစက်ပစ္စည်းများကြောင့် အသံ ဆူညံမှု ဖြစ်ခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ North East Great Fruit Co., Ltd. သည် ရှမ်းပြည်နယ်(မြောက်ပိုင်း) မူဆယ်မြို့နယ်၊ စက်မှုရပ်ကွက်၊ မြေကွက်အမှတ်-၁၃၇၊ ၁၃၈၊ ၁၃၉၊ ၁၄၀၊ ၁၄၁၊ ၁၄၂၊ ၁၄၃၊ ၁၄၄၊ ၁၄၅၊ ၁၄၆၊ ၁၄၇၊ ၁၄၈၊ ၁၄၉၊ ၁၅၀၊ ၁၅၁၊ ၁၅၂ နှင့် မြေကွက်အမှတ်- ၁၅၅၊ ၁၅၆ ရှိစုစုပေါင်းမြေ(၄.၁၄)ကေတွင် သစ်သီးစွပ်စက္ကူအိတ်၊ သစ်သီးစွပ် ဖော့အိတ်၊ သစ်သီးထည့်ပလပ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များထုတ်လုပ်ကာ ပြည်တွင်းပြည်ပ တွင် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက် များအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်ပြန်ကြား အပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချ မှတ်ခြင်း၊ ထုတ်လုပ်ခြင်းအဆင့်ဆင့် တို့အတွက် စီမံကိန်းဆိုင်ရာအချက် အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်းဆောင် ရွက်ရန်၊

(ခ) စီမံကိန်း လုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းအကောင်အထည်အဖော်မီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၁/၂၀၁၃) အရ လိုအပ်သည့် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) ကို ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီ အစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့

နောက်ဆက်တွဲ၊

ကမှတ်ပုံတင်ကြီးဌာန



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

..265
..3-14

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၃-၂၀၁၄(၇၉၅၂)
ရက် စွဲ၊ ၂၀၁၄ ခုနှစ် မတ် လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄.၂.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၄၀၅/၂၀၁၄(၁၉၇၇)

၁။ North East Gate Fruit Co.,Ltd. သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ စက်မှုရပ်ကွက်တွင် သစ်သီးစွပ် စက္ကူအိတ်၊ သစ်သီးစွပ်ဖော့အိတ်၊ သစ်သီးထည့်ပလတ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များ ထုတ်လုပ်ကာ ပြည်တွင်း၊ ပြည်ပရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့်ညှိနှိုင်း မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် CMP စနစ်ဖြင့် သစ်သီးစွပ်စက္ကူအိတ်၊ သစ်သီးစွပ်ဖော့အိတ်၊ သစ်သီးထည့်ပလတ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များ ထုတ်လုပ်ကာပြည်တွင်း၊ ပြည်ပရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများအား လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီစစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) စက်စမ်းသပ်လည်ပတ်နိုင်ပါက ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းနှင့်ကုန်ချောထုတ်လုပ်မှုအချိုးအစား ကိုက်ညီမှုရှိပါသည်။

(စ) ကုန်ကြမ်းနှင့်ကုန်ချောစျေးနှုန်း တင်ပြထားမှု ဆီလျော်မှုရှိပါသည်။

(ဆ) နှစ်အလိုက် တိုးချဲ့ထုတ်လုပ်မည့် ကုန်ထုတ်လုပ်မှုပြည့်မီရန်အတွက် စက်အင်အား/ လူအင်အားတိုးချဲ့သွားရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ North East Gate Fruit Co.,Ltd. မှ CMP စနစ်ဖြင့် သစ်သီးစွပ်စက္ကူအိတ်၊ သစ်သီးစွပ်ဖော့အိတ်၊ သစ်သီးထည့်ပလတ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များ ထုတ်လုပ်ကာ ပြည်တွင်း၊ပြည်ပရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၁.၃.၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

ပူးတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ (၇၃၉၀) /၇ – ၂၁၆ / အစရ( ရှမ်း)
ရက် စွဲ ၊ ၂၀၁၄ခုနှစ်၊ ဇွန်လ ၃ ရက်

သို့
North East Gate Fruit Co.,Ltd
ၡ/၁၀၀၊ ပဇာလမ်း၊ မူဆယ်မြို့

အကြောင်းအရာ။ **အသိပေးအကြောင်းကြားခြင်း**

၁။ မူဆယ်ခရိုင်၊ မူဆယ်မြို့၊ စက်မှုရပ်ကွက်၊ မြေကွက်အမှတ်–၁၃၇၊ ၁၃၈၊ ၁၃၉၊ ၁၄၀၊ ၁၄၁၊ ၁၄၂၊ ၁၄၃၊ ၁၄၄၊ ၁၄၅၊ ၁၄၆၊ ၁၄၇၊ ၁၄၈၊ ၁၄၉၊ ၁၅၀၊ ၁၅၁၊ ၁၅၂နှင့် မြေကွက်အမှတ်–၁၅၅၊၁၅၆ရှိ စုစုပေါင်း (၄.၁၄)ဧကတွင် သစ်သီးစွပ်စက္ကူအိတ်၊ သစ်သီးစွပ်ဖော့အိတ်၊ သစ်သီးထည့် ပလပ်စတစ်ခြင်းနှင့် ပလပ်စတစ်လိပ်များထုတ်လုပ်ကာပြည်တွင်း၊ပြည်ပတွင်ရောင်းချခြင်းလုပ်ငန်းများလုပ်ကိုင်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ရှမ်းပြည်နယ်မြေစာရင်းဦးစီးဌာနမှ လျှောက်ထားမြေကွက်များပေါ်တွင် တင်ပြထားသောအကွက်ချမြေပုံနှင့်အဆောက်အဦဆောက်လုပ်ထားရှိမှု အနေအထားပြမြေပုံကြမ်းတို့အရ အဆောက်အဦများကိုအကွက်ချမြေပုံကြမ်းတွင်ပါရှိသည့် လျှာထားလမ်းကိုပိတ်လျက် ဆောက်လုပ်ထားကြောင်း၊ လျှာထားလမ်းဧရိယာမှာ အကွက်ချမြေပုံအရ (၄၀၀ပေ×၄၀ပေ)၊ ဧရိယာ(၀.၃၆၇)ဧကရှိပါကြောင်း၊ လျှာထားလမ်းဧရိယာမှာ မြေပေးမိန့်ခွင့်ပြု ထားသော မြေကွက်များအတွင်း ပါဝင်ခြင်းမရှိကြောင်း၊ လျှောက်ထားသူများအသုံးပြုထားသည့် မြေဧရိယာ (၄.၁၄)ဧကအပြင် လျှာထားလမ်းဧရိယာ (၀.၃၆၇)ဧက၊ စုစုပေါင်း (၄.၅၀၇)ဧကရှိ မြေဖြစ်သည်ကို စိစစ်တွေ့ရှိရကြောင်း၊ မြေကွက်အမှတ် ၁၃၇၊ ၁၃၈၊ ၁၃၉၊ ၁၄၀၊ ၁၄၁၊ ၁၄၂၊ ၁၄၃၊ ၁၄၄ စုစုပေါင်း(၈)ကွက်၊ ဧရိယာ (၁.၈၄)ဧကသည် ဦးစိုင်းမောင်ညွန့်အမည်ဖြင့်လည်းကောင်း၊ မြေကွက်အမှတ် ၁၄၅၊ ၁၄၆၊ ၁၄၇၊ ၁၄၈၊ ၁၄၉၊ ၁၅၀၊ ၁၅၁၊ ၁၅၂၊ ၁၅၅၊ ၁၅၆ စုစုပေါင်း(၁၀)ကွက်၊ ဧရိယာ(၂.၃၀)ဧကသည် ဦးစိုင်းထွန်းဝင်းအမည်ဖြင့်လည်းကောင်း၊ (၂၁.၁.၂၀၁၁)ရက်နေ့တွင် မူဆယ်ခရိုင်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ မြေကွက်နေရာချထားပေးမှုမှတ်တမ်းအရသာ ပိုင်ဆိုင်မှုရှိပြီးစက်မှုမြေဌားဂရန်ဆက်လက် လျှောက်ထားရန်လိုအပ်မည်ဖြစ်ပါကြောင်း စိစစ်တင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ မြေကွက်နေရာချထားမှုတွင် မပါဝင်သည့် မြေကွက်များအတွင်းရှိလျှာထားလမ်းဧရိယာ (၀.၃၆၇)ဧကမှလွဲ၍ ခွင့်ပြုထားသောမြေကွက် (၄.၁၄)ဧကတွင်သာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် တင်ပြလျှောက်ထားခြင်းအပေါ် ကန့်ကွက်ရန်မရှိကြောင်း သိရှိနိုင်ပါရန် အကြောင်းကြားပါသည်။

(လက်မှတ်)

ပြည်နယ်ဝန်ကြီးချုပ် (ကိုယ်စား)
(မြင့်အောင်၊ အတွင်းရေးမှူး)

မိတ္တူကို

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရုံးအမှတ် (၃၂)၊ နေပြည်တော်

ပြည်နယ်ဒုတိယအုပ်ချုပ်ရေးမှူး၊ပြည်နယ်ဒုတိယအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊လားရှိုးမြို့

အုပ်ချုပ်ရေးမှူး၊ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊မူဆယ်မြို့

ရုံးလက်ခံ

မျှောစာတွဲ

၆/၁၁၁